ကန့်သတ်

၁

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Satt Satt Paing Co.,Ltd. မှ လယ်ယာထွက်သီးနှံများ အခြောက်ပေါင်းခံ ၊ကြိတ်ခွဲထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - Myanmar Satt Satt Paing Co.,Ltd.<br>- ဒေါ်ယဉ်ယဉ်ထွေး<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု(တရုတ်ပြည်သူ့သမ္မတနိုင်ငံ)<br>ဒေါ်ယဉ်ယဉ်ထွေး မြန်မာ ၂၁%<br>XUANWEI SHUNSHENG AGRICULTURAL DEVELOPNENT CO.,LTD. တရုတ် ၇၈%<br>Mr.Yu Xianghui တရုတ် ၁% |
| | လုပ်ငန်းအမျိုးအစား | - လယ်ယာထွက်သီးနှံများ အခြောက်ပေါင်းခံ၊ ကြိတ်ခွဲထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်(၈၉/၉၀)၊ ကွင်းအမှတ်(၅၃၀)၊ သမ္မတော ကျေးရွာ၊ ပုသိမ်ကြီးမြို့နယ်၊မန္တလေးတိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက် | - ဦးအောင်ဆန်း<br>- ၁.၇၁ ဧက (၆၉၂၀.၁၃၀၆ စတုရန်းမီတာ)<br>- (၃၀x၅၀)ပေ အကျယ်အဝန်းရှိ ရုံးအဆောက်အဦ (၁)လုံး<br>- (၅၀x၁၈၀)ပေ အကျယ်အဝန်းရှိ အလုပ်ရုံ အဆောက်အဦ (၁)လုံး<br>- (၃၀x၈၀)ပေ အကျယ်အဝန်းရှိ ဝန်ထမ်းအိပ်ဆောင်(၁)လုံး<br>- (၃၀x၄၀)ပေ အကျယ်အဝန်းရှိ စားဖိုဆောင်(၁)လုံး |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ်၃,၉၆၀၀,၀၀၀/-(ကျပ်သုံးရာ ကိုးဆယ့်ခြောက်သိန်းတိတိ)(တစ်နှစ် တစ်စတုရန်းမီတာ လျှင် ၅၇၂.၄၄ ကျပ်နှုန်း) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၂၀နှစ် |

| | | |
|---|---|---|
| ၅။ | တည်ဆောက်မှုကာလ | - ၁နှစ်၆လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | US$ ၀.၄၀၀ သန်း |
| ၇။ | စီးပွားဖြစ်မစတင်မီ ထည့်ဝင်မည့်ပမာဏ | - US$ ၀.၀၃၂ သန်း |
| ၈။ | ဆောင်ရွက်မည့်နည်းစနစ် (ရောင်းချမည့်ပုံစံ) | - ပြည်ပ (၁၀၀) ရာခိုင်နှုန်း |
| ၉။ | ထုတ်လုပ်မှုနှင့်ရောင်း ဈေးနှုန်း(ဒုတိယနှစ်) | (see table below) |
| ၁၀။ | ဝန်ထမ်းခန့်ထားမှု | (see table below) |

၆။ စုစုပေါင်းမတည်ငွေရင်းပမာဏ — US$ ၀.၄၀၀ သန်း

| | နိုင်ငံခြား(၇၉%) US$(သန်း) | နိုင်ငံသား(၂၁%) US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|
| ငွေသား | ၀.၁၄၉ | ၀.၀၄၀ | ၀.၁၈၉ |
| မြေငှားရမ်းခ | ၀.၀၂၁ | ၀.၀၀၅ | ၀.၀၂၆ |
| အဆောက်အဦ | ၀.၀၄၉ | ၀.၀၁၃ | ၀.၀၆၂ |
| စက်ပစ္စည်း (ပြည်တွင်းမှဝယ်ယူပြီး) | ၀.၀၃၉ | ၀.၀၁၀ | ၀.၀၄၉ |
| စက်ပစ္စည်း (ပြည်တွင်းမှဝယ်ယူရန်) | ၀.၀၅၀ | ၀.၀၁၄ | ၀.၀၆၄ |
| လုပ်ငန်းသုံးပရိဘောဂနှင့် ပစ္စည်းများ(ပြည်တွင်းဝယ်) | ၀.၀၀၈ | ၀.၀၀၂ | ၀.၀၁၀ |
| | ၀.၃၁၆ | ၀.၀၈၄ | ၀.၄၀၀ |

၉။ ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း(ဒုတိယနှစ်)

| အမျိုးအမည် | ထုတ်လုပ်မှု (တန်) | ဈေးနှုန်း (တန်/US$) |
|---|---|---|
| ဝ ဥအခြောက်မှုန့် | ၆၀၀ | ၅၅၀၀ |
| မုန်လာဥအခြောက် | ၇၀ | ၅၂၀၀ |
| အာလူးအခြောက် | ၁၀၀ | ၄၇၀၀ |

၁၀။ ဝန်ထမ်းခန့်ထားမှု

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၄၇ ဦး | ၃ ဦး |
| အမြင့်ဆုံးလစာ | ကျပ်၁,၀၀၀,၀၀၀/- | US$ ၁၀၀၀ |
| အနိမ့်ဆုံးလစာ | ကျပ်၁၅၀,၀၀၀/- | |

| | | |
|---|---|---|
| ၁၁။ | **CSR အစီအစဉ်** | - လုပ်ငန်းအမြတ်ငွေမှ အနည်းဆုံး ၂% ကို ဝန်ထမ်း နှင့် ဝန်ထမ်းမိသားစုများ၊ ဒေသဖွံ့ဖြိုးရေးတို့အတွက်အောက်ပါ အတိုင်း သုံးစွဲ မည်ဖြစ်ပါသည်-<br>➢ ပညာရေးကဏ္ဍတွင် ၄၀%<br>➢ ကျန်းမာရေးကဏ္ဍတွင် ၄၀%<br>➢ သဘာဝဘေးအန္တရာယ်ကာကွယ်ရေးလုပ်ငန်းများတွင်၂၀% |
| ၁၂။ | **မီးဘေးကြိုတင် ကာကွယ်မှု စီမံချက်** | - စီမံချက်အား တင်ပြထားပြီး မီးအာမခံထားရှိခြင်း၊ ဂါလံ (၅၀၀၀)ဆံ့ ရေလှောင်ကန်ထားရှိခြင်း၊ လုံခြုံရေးကင်မရာ ထားရှိခြင်း၊ အချက်ပေးစနစ်၊ မီးချိတ်၊ မီးကပ်၊ သဲပုံး၊ ရေပုံး များ၊ မီးသတ်ဆေးဘူးများထားရှိခြင်း၊ အရေးပေါ် မီးသတ် သင်တန်းပေးခြင်း တို့ ဆောင်ရွက်သွားမည် ဖြစ်ပါ သည်။ |
| ၁၃။ | **သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအစီအစဉ်** | - ပတ်ဝန်းကျင် နှင့် လူမှုပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များ ရေးဆွဲ ဆောင်ရွက်မည် ဖြစ်ကြောင်း၊ သက်ဆိုင်ရာ ဌာန များနှင့် ပူးပေါင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင် ပြထားပါ သည်။<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ၏ ညွှန်ကြား ချက်နှင့် အညီ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် EMP နှင့် IEE တို့ကို ရေးဆွဲ မည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ထို့ပြင် လုပ်ငန်းမှ အသုံးပြုပြီး စွန့်ပစ်ရေများတွင် သဘာဝ ပတ်ဝန်းကျင်ကို ထိခိုက်စေသည့် ဓါတုဒြပ်ပေါင်းများ ပါဝင် ခြင်းမရှိပါကြောင်း၊ ကုန်ကြမ်းသီးနှံများ ကို ရေစစ်ကန်(၃) ဆင့်ဖြင့် ဆေးကြောသန့်စင်ပြီး ထွက်ရှိလာသည့် နုန်းများ ကို (၁)လတစ်ကြိမ် သန့်စင်သွားမည်ဖြစ်ကြောင်း၊ အမှိုက် များကို သက်ဆိုင်ရာ မြို့နယ်စည်ပင်သာယာရေးအဖွဲ့ နှင့် ချိတ်ဆက်စွန့်ပစ်သွားမည်ဖြစ်ကြောင်း၊စွန့်ပစ်ရေများတွင် ပါဝင်သောနုန်းများသည်ဓါတ်မြေသြဇာအဖြစ်အသုံးပြု နိုင်ပြီး တောင်သူများအား အခမဲ့ ဖြန့်ဖြူးသွား မည်ဖြစ် ကြောင်း၊ စက်ရုံ ပတ်ပတ်လည်တွင် အရိပ်ရအပင်များ၊ နေကာပင်များစိုက်ပျိုးသွားမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။ |

| | | |
|---|---|---|
| ၁၄။ | **လုပ်ငန်းခွင် သာယာရေး နှင့် သက်သာချောင်ချိရေး အစီအစဉ်** | - ဝန်ထမ်းအိမ်ယာထားရှိခြင်း၊ အစားအသောက် ကျွေးမွေးခြင်း၊ သောက်ရေသန့်များထားရှိခြင်း၊ အိမ်သာကို အလုံအလောက်တည်ဆောက်ထားရှိခြင်း၊ အဆောက်အဦ အားလေဝင်လေထွက် ကောင်းစေရန် စီမံပေးခြင်း၊ ကျန်းမာရေး စောင့်ရှောက်မှု အခန်းများနှင့် အရေးပေါ် ကျန်းမာရေး စောင့်ရှောက်မှု ဆေးသေတ္တာများ ထားရှိပေးခြင်း၊ အလုပ်ရှင်/အလုပ်သမား နှစ်ဦးလုံးအတွက် လူမှုဖူလုံရေးပေးခြင်း၊ အများပြည်သူရုံးပိတ်ရက်များတွင် ပျော်ပွဲရွှင်ပွဲများကျင်းပပေးခြင်း၊ ရုံးတက်ရက်မှန်ကြေး၊ ဆုကြေးပေးခြင်း၊ တူညီဝတ်စုံ စီစဉ်ပေးခြင်း၊ ဝန်ထမ်းမွေးနေ့တွင် လက်ဆောင် ပစ္စည်းများပေးခြင်း၊ သင်တန်းပေးခြင်း၊ လုပ်ငန်းရပ်နားထားသည့် မိုးတွင်းကာလ (၃)လတွင် ဝန်ထမ်းများ အားလုံးအား ပုံမှန်အတိုင်း လစာပေးခြင်း၊ စားစရိတ် ထောက်ပံ့ပေးခြင်း၊ နေထိုင်ခွင့် ထောက်ပံ့ပေးခြင်း တို့ကို ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | **လုပ်ငန်းသဘာဝ ရှင်းလင်းချက်** | (၁) ကုန်ချောပစ္စည်းဓါတ်ပုံများတင်ပြထားပါသည်။<br>(၂) ထုတ်လုပ်မည့် ကုန်ချောအမျိုးအစား အလိုက် ထုတ်လုပ်မှု နည်းစဉ်နှင့် ထုတ်လုပ်ပုံအဆင့်ဆင့်(Flow Chart)ကို တင်ပြ ထားပါသည်။<br>(၃) သီးနှံကုန်ကြမ်း(ဝဥ၊ အာလူး၊ မုန်လာဥ)များအား အနာအဆာများ ရွေးချယ်ဖယ်ထုတ်ပြီး အလိုအလျောက် ရေစစ်ကန် ၃ဆင့်တွင် (၃)ကြိမ်ဆေးကြောသန့်စင်ပြီး စက်ဖြင့် လှီးဖြတ်မည်ဖြစ်ပါကြောင်း၊ ဖြတ်တောက်ပြီး သီးနှံများအားလေစုပ် မီးဖိုစက်ဖြင့် အပူပေး အခြောက်ခံပေါင်းခံမည်ဖြစ်ပါကြောင်း၊ထို့နောက် စက်ဖြင့် ကြေမွသည်အထိ ကြိတ်ခွဲပြီး ထုပ်ပိုးမည် ဖြစ်ပါကြောင်း ၊ ကုန်ချော တန်ချိန်(၁၀၀)ပြည့်လျှင် ပြည်ပ သို့ ဖြန့်ဖြူးရောင်းချမည် ဖြစ်ပါကြောင်း တင်ပြထားပါ သည်။ |

| | | |
|---|---|---|
| ၁၆။ | **အခြားတင်ပြချက်များ** | - ဝန်ထမ်း၊ အလုပ်သမားများ၏လုပ်ခ၊ လစာနှင့် ပတ် သက်၍ သက်ဆိုင်ရာ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ အမိန့်ကြော်ငြာစာ၊ အမိန့်ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများနှင့် အညီ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိတင်ပြ ထားပါသည်။<br>- အလုပ်သမားအချင်းချင်း၊ အလုပ်ရှင်နှင့် အလုပ်သမားတို့ အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများအား သက်ဆိုင်ရာ တည်ဆဲဥပဒေများ နှင့်အညီ ဖြေရှင်း ဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိတင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးအောင်ဆန်းနှင့် Myanmar Satt Satt Paing Co.,Ltd. တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း) နှင့် မြေပိုင်ဆိုင်မှုအထောက်အထားများ ပူးတွဲ တင်ပြထားပါသည်။<br>- အဆိုပြုမြေနေရာနှင့်စပ်လျဉ်း၍ မြေအသုံးပြုခွင့် ရည်ရွယ်ချက်အား ပြင်ဆင်ခွင့် တင်ပြထားပါကြောင်း၊ ဖြစ်ပေါ်လာမည့် ကိစ္စ အဝဝကို ကုမ္ပဏီမှ တာဝန်ယူပါကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင်တည်နေရာပြ မြေပုံနှင့် ဆောက်လုပ်မည့် အဆောက်အဦ ပုံစံ(မိတ္တူ) တင်ပြထားပါသည်။<br>- လုပ်ငန်းသုံး စက်ပစ္စည်းများအား ပြည်တွင်းမှ ဝယ်ယူခြင်း ဖြစ်ပါသည်။<br>- လုပ်ငန်းမှ ထွက်ရှိလာသည့် ဝဥအခြောက်မှုန့်များကို ကိတ်မုန့်၊ ဘီစကစ်များ ပြုလုပ်ရာတွင် အသုံးပြုပါကြောင်း၊ မုန်လာဥခြောက်များကိုအသင့်စားခေါက်ဆွဲခြောက်များတွင် အသုံးပြုပါကြောင်း၊အာလူးခြောက်များကိုအသင့်ကြော်စားရန်အသုံးပြုပါကြောင်းတင်ပြထားပါသည်။<br>- ဖက်စပ်ဆောင်ရွက်မည့် XUANWEI SHUNSHENG AGRICULTURAL DEVELOPNENT CO.,LTD. သည် လက်ရှိ တရုတ်ပြည်တွင် မုန်လာဥနှင့်အာလူးများကို အခြောက်ပေါင်းခံခြင်း လုပ်ငန်း ဆောင်ရွက်လျှက်ရှိပြီး နည်းပညာ လုပ်ငန်း အတွေ့အကြုံ(၃)နှစ်ရှိကြောင်းတင်ပြထားပါသည်။<br>- နိုင်ငံခြားမတည်ငွေရင်းအား ၁နှစ် နှင့် ၆လ အတွင်း ယူဆောင်လာမည် ဖြစ်ကြောင်းတင်ပြထားပါသည်။<br>- ဖက်စပ်စာချုပ်(မူကြမ်း)တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်နှင့် ကုမ္ပဏီဆိုင်ရာ အချက်အလက်များနှင့် ရင်းနှီးမြှုပ်နှံသူ၏ မှတ်ပုံတင်၊ Passport မိတ္တူများကို တင်ပြထား ပါသည်။ |
| ၁၇။ | **စိစစ်တင်ပြချက်** | - အဆိုပြုလုပ်ငန်း သည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့် တင်မည့် ကဏ္ဍတွင် ပါဝင်ပါသည်။<br>- ဖွံ့ဖြိုးတိုးတက်မှုဇုန်(၃) တွင် ပါဝင်သဖြင့် ဝင်ငွေခွန်ကင်းလွတ်ခွင့် ၃ နှစ် ခံစားခွင့် လျှောက်ထား နိုင်ပါသည်။<br>- လယ်ယာထွက်သီးနှံများ အခြောက်ခံခြင်း လုပ်ငန်း နှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်း(၁)ခုအား အတည်ပြုမိန့် ထုတ်ပေးထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ၂၂/ ၄၄/ ၀၃(န-၃၁) ( ၃၇၃ / ၂၀၁၉)

ရက်စွဲ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၃၀ ရက်။

## မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Satt Satt Paing Co.,Ltd. မှ လယ်ယာထွက်သီးနှံများ အခြောက်ပေါင်းခံ ကြိတ်ခွဲထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ။**

၁။ Myanmar Satt Satt Paing Co., Ltd. (ဒေါ်ယဉ်ယဉ်ထွေး (မြန်မာ) ၂၁%၊ XUANWEI SHUNSHENG AGRICULTURAL DEVELOPNENT CO.,LTD.(တရုတ်)၇၈%၊ Mr.Yu Xianghui (တရုတ်) ၁%) (ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု) မှ ဦးပိုင်အမှတ်(၈၉/၉၀)၊ ကွင်းအမှတ်(၅၃၀)၊ သမ္မတော ကျေးရွာ၊ပုသိမ်ကြီးမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၁.၇၁ဧက (၆၉၂၀.၁၃၀၆ စတုရန်းမီတာ) ကိုငှားရမ်း၍ လယ်ယာထွက်သီးနှံများ အခြောက်ပေါင်းခံ၊ ကြိတ်ခွဲ ထုတ်လုပ်ခြင်း လုပ်ငန်းအား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါ သည်။

၂။ မြေပိုင်ရှင် ဦးအောင်ဆန်း နှင့် Myanmar Satt Satt Paing Co.,Ltd. တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း) ၊ မြေပိုင်ဆိုင်မှု အထောက်အထား၊ ဖက်စပ် စာချုပ် (မူကြမ်း)၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်နှင့် ကုမ္ပဏီဆိုင်ရာ အချက်အလက်များ၊ ရင်းနှီးမြှုပ်နှံသူ၏ Passport မိတ္တူ များ ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုမြေနေရာနှင့်စပ်လျဉ်း၍ မြေအသုံးပြုခွင့် ရည်ရွယ်ချက်အား ပြင်ဆင်ခွင့် တင်ပြထားပါကြောင်း၊ ဖြစ်ပေါ်လာမည့် ကိစ္စ အဝဝကို ကုမ္ပဏီမှ တာဝန်ယူပါကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၁နှစ်နှင့်၆လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၄၀၀ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အသေးစိတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | နိုင်ငံခြား (၇၉%) | နိုင်ငံသား (၂၁%) | စုစုပေါင်း |
|---|---|---|---|---|
| | | US$ (သန်း) | US$ (သန်း) | US$ (သန်း) |
| ငွေသား | - | ၀.၁၄၉ | ၀.၀၄၀ | ၀.၁၈၉ |

| | | | | |
|---|---|---|---|---|
| မြေငှားခ | - | ၀.၀၂၁ | ၀.၀၀၅ | ၀.၀၂၆ |
| အဆောက်အဦ | - | ၀.၀၄၉ | ၀.၀၁၃ | ၀.၀၆၂ |
| စက်ပစ္စည်း(ပြည်တွင်းဝယ်) | - | ၀.၀၃၉ | ၀.၀၁၀ | ၀.၀၄၉ |
| စက်ပစ္စည်း(ပြည်ပဝယ်) | - | ၀.၀၅၀ | ၀.၀၁၄ | ၀.၀၆၄ |
| လုပ်ငန်းသုံးပရိဘောဂနှင့် ပစ္စည်းများ (ပြည်တွင်းဝယ်) | - | ၀.၀၀၈ | ၀.၀၀၂ | ၀.၀၁၀ |
| စုစုပေါင်း | - | ၀.၃၁၆ | ၀.၀၈၄ | ၀.၄၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၄၇) ဦး နှင့် ပြည်ပဝန်ထမ်း(၃)ဦး ခန့်ထားဆောင်ရွက်မည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀/- နှင့် အမြင့်ဆုံး ကျပ်၁,၀၀၀,၀၀၀/-ဖြစ်ပြီး ပြည်ပဝန်ထမ်း တစ်ဦး၏ လစာမှ US$ ၁၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိလာမည့် ကုန်ချောများကို ပြည်ပသို့ ၁၀၀ ရာခိုင်နှုန်း တင်ပို့ရောင်းချမည်ဖြစ်ပြီး ဒုတိယနှစ်၏ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်း မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| အမျိုးအမည် | ထုတ်လုပ်မှု(တန်) | ဈေးနှုန်း (တန်/ US$ ) |
|---|---|---|
| ဝဥအခြောက်မှုန့် | ၆၀၀ | ၅၅၀၀ |
| မုန်လာဥအခြောက် | ၇၀ | ၅၂၀၀ |
| အာလူးအခြောက် | ၁၀၀ | ၄၇၀၀ |

၈။ **စိစစ်တင်ပြချက်**

(က) အဆိုပြုမြေပေါ်တွင် (၃၀x၅၀)ပေ အကျယ်အဝန်းရှိ ရုံးအဆောက်အဦ (၁)လုံး၊ (၅၀x၁၈၀)ပေအကျယ်အဝန်းရှိစက်ရုံအဆောက်အဦ(၁)လုံး၊(၃၀x၈၀)ပေအကျယ်အဝန်းရှိဝန်ထမ်းအိပ်ဆောင်(၁)လုံးနှင့်(၃၀x၄၀)ပေအကျယ်အဝန်းရှိစားဖိုဆောင်(၁)လုံး တို့ကိုဆောက်လုပ်မည်ဖြစ်ပါ သည်။

(ခ) **CSR** အနေဖြင့် လုပ်ငန်းအမြတ်ငွေမှ အနည်းဆုံး ၂% ကိုအောက်ပါ အတိုင်း သုံးစွဲမည်ဖြစ်ပါသည်-

- ပညာရေးကဏ္ဍတွင် ၄၀%
- ကျန်းမာရေးကဏ္ဍတွင် ၄၀%
- သဘာဝဘေးအန္တရာယ်ကာကွယ်ရေးလုပ်ငန်းများတွင်၂၀%

(ဂ) **မီးဘေးကြိုတင်ကာကွယ်ရေး** အနေဖြင့် စီမံချက်အား တင်ပြထားပြီး မီးအာမခံထားရှိခြင်း၊ ဂါလံ (၅၀၀၀)ဆံ့ ရေလှောင်ကန်ထားရှိခြင်း၊ လုံခြုံရေး ကင်မရာ

ထားရှိခြင်း၊ အချက်ပေးစနစ်၊ မီးချိတ်၊ မီးကပ်၊ သဲပုံး၊ ရေပုံးများ၊ မီးသတ်ဆေးဘူးများ ထားရှိခြင်း၊ အရေးပေါ် မီးသတ် သင်တန်းပေးခြင်း တို့ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဃ) **ပတ်ဝန်းကျင်ညစ်ညမ်းမှု** မရှိစေရေးအတွက် ပတ်ဝန်းကျင် နှင့် လူမှုပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များ ရေးဆွဲဆောင်ရွက်မည်ဖြစ်ကြောင်း၊ သက်ဆိုင်ရာဌာနများနှင့် ပူးပေါင်းဆောင်ရွက်သွား မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန ၏ ညွှန်ကြား ချက်နှင့် အညီ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် EMP နှင့် IEE တို့ကို ရေးဆွဲ မည် ဖြစ်ကြောင်း ၊ ထို့ပြင်လုပ်ငန်းမှ အသုံးပြုပြီးစွန့်ပစ်ရေများတွင် သဘာဝ ပတ်ဝန်းကျင်ကို ထိခိုက်စေသည့် ဓါတုဒြပ်ပေါင်း များ ပါဝင်ခြင်း မရှိပါ ကြောင်း၊ ကုန်ကြမ်းသီးနှံများကို ရေစစ်ကန်(၃)ဆင့်ဖြင့် ဆေးကြောသန့်စင်ပြီး ထွက်ရှိလာသည့် နုန်းများကို (၁)လတစ်ကြိမ် သန့်စင်သွားမည်ဖြစ်ကြောင်း၊ အမှိုက် များကို သက်ဆိုင်ရာမြို့နယ် စည်ပင်သာယာရေး အဖွဲ့နှင့် ချိတ်ဆက် စွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ စွန့်ပစ်ရေများတွင် ပါဝင်သော နုန်းများသည် ဓါတ်မြေဩဇာ အဖြစ် အသုံးပြုနိုင်ပြီး တောင်သူများအား အခမဲ့ ဖြန့်ဖြူးသွားမည်ဖြစ်ကြောင်း၊ စက်ရုံ ပတ်ပတ်လည်တွင် အရိပ်ရအပင်များ၊ နေကာပင်များ စိုက်ပျိုးသွားမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။

(င) **လုပ်ငန်းခွင် သက်သာချောင်ချိရေး အနေဖြင့်** ဝန်ထမ်းအိမ်ယာထားရှိခြင်း၊ အစားအသောက် ကျွေးမွေးခြင်း၊ သောက်ရေသန့်များထားရှိခြင်း၊ အိမ်သာကို အလုံအလောက် တည်ဆောက်ထားရှိခြင်း၊ အဆောက်အဦအား လေဝင်လေထွက် ကောင်းစေရန် စီမံပေးခြင်း၊ ကျန်းမာရေး စောင့်ရှောက်မှု အခန်းများနှင့် အရေးပေါ် ကျန်းမာရေး စောင့်ရှောက်မှု ဆေးသေတ္တာများ ထားရှိပေးခြင်း၊ အလုပ်ရှင် အလုပ်သမား နှစ်ဦးလုံးအတွက် လူမှုဖူလုံရေးပေးခြင်း၊ အများပြည်သူရုံးပိတ် ရက်များတွင် ပျော်ပွဲရွှင်ပွဲများ ကျင်းပပေးခြင်း၊ ရုံးတက်ရက်မှန်ကြေး၊ ဆုကြေးပေးခြင်း၊ တူညီဝတ်စုံစီစဉ်ပေးခြင်း၊ ဝန်ထမ်းမွေးနေ့တွင် လက်ဆောင် ပစ္စည်းများပေးခြင်း၊ သင်တန်းပေးခြင်း၊ လုပ်ငန်း ရပ်နားထားသည့် မိုးတွင်းကာလ(၃)လတွင် ဝန်ထမ်းများ အားလုံးအား ပုံမှန်အတိုင်း လစာပေးခြင်း၊ စားစရိတ် ထောက်ပံ့ပေးခြင်း၊ နေထိုင်ခွင့်ထောက်ပံ့ပေးခြင်း တို့ကို ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(စ) **ဝန်ထမ်းအလုပ်သမားများ ၏ လုပ်ခ၊ လစာ နှင့်ပတ်သက်၍** သက်ဆိုင်ရာ တည်ဆဲဥပဒေများ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများ၊ အမိန့်ကြော်ငြာစာ၊ အမိန့်ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများ နှင့်အညီ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ အလုပ်သမားအချင်းချင်း၊ အလုပ်ရှင်နှင့် အလုပ်သမား တို့အကြား ပေါ်ပေါက်လာသည့် အငြင်းပွားမှုများအား သက်ဆိုင်ရာ တည်ဆဲဥပဒေများ နှင့်အညီ ဖြေရှင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါ သည်။

(ဆ) ပတ်ဝန်းကျင်တည်နေရာပြမြေပုံ နှင့် ဆောက်လုပ်မည့် အဆောက်အဦ ပုံစံ(မိတ္တူ) တင်ပြထားပါသည်။

(ဇ) လုပ်ငန်းသုံး စက်ပစ္စည်းအချို့အား ပြည်တွင်းမှ ဝယ်ယူပြီး ဖြစ်ပါသည်။

(ဈ) လုပ်ငန်းသဘာဝရှင်းလင်းချက်အနေဖြင့်

- ကုန်ချောပစ္စည်းဓါတ်ပုံများတင်ပြထားပါသည်။
- ထုတ်လုပ်မည့် ကုန်ချောအမျိုးအစား အလိုက် ထုတ်လုပ်မှုနည်းစဉ်နှင့် ထုတ်လုပ်ပုံအဆင့်ဆင့်(Flow Chart)ကို တင်ပြ ထားပါသည်။
- သီးနှံကုန်ကြမ်း(ဝဥ ၊အာလူး၊ မုန်လာဥ) များအား အနာအဆာများ ရွေးချယ်ဖယ်ထုတ်ပြီး အလိုအလျောက် ရေစစ်ကန် ၃ဆင့်တွင် (၃)ကြိမ် ဆေးကြောသန့်စင်ပြီး စက်ဖြင့် လှီးဖြတ်မည်ဖြစ်ပါကြောင်း၊ ဖြတ်တောက်ပြီး သီးနှံ များအား လေစုပ် မီးဖိုစက်ဖြင့် အပူပေးအခြောက်ခံ ပေါင်းခံမည် ဖြစ်ပါကြောင်း၊ ထို့နောက် စက်ဖြင့် ကြေမွသည်အထိ ကြိတ်ခွဲပြီး ထုပ်ပိုး မည် ဖြစ်ပါ ကြောင်း ၊ ကုန်ချောတန်ချိန်(၁၀၀)ပြည့်လျှင် ပြည်ပသို့ ဖြန့်ဖြူး ရောင်းချမည်ဖြစ်ပါကြောင်း တင်ပြထား ပါသည်။

(ည) လုပ်ငန်းမှ ထွက်ရှိလာသည့် လုပ်ငန်းမှ ထွက်ရှိလာသည့် ဝဥအခြောက် မှုန့်များကို ကိတ်မုန့်၊ ဘီစကစ်များ ပြုလုပ်ရာတွင် အသုံးပြုပါကြောင်း၊ မုန်လာဥခြောက်များကို အသင့်စား ခေါက်ဆွဲ ခြောက်များတွင် အသုံးပြုပါကြောင်း၊ အာလူးခြောက်များကို အသင့်ကြော်စားရန် အသုံးပြုပါကြောင်း တင်ပြထားပါ သည်။

(ဋ) ဖက်စပ်ဆောင်ရွက်မည့် XUANWEI SHUNSHENG AGRICULTURAL DEVELOPNENT CO.,LTD. သည် လက်ရှိ တရုတ်ပြည်တွင် မုန်လာဥ နှင့် အာလူးများကို အခြောက်ပေါင်းခံခြင်း လုပ်ငန်း ဆောင်ရွက်လျှက်ရှိပြီး နည်းပညာ လုပ်ငန်း အတွေ့အကြုံ(၃)နှစ် ရှိကြောင်း တင်ပြထားပါသည်။

(၄) နိုင်ငံခြားမတည်ငွေရင်းအား ၁နှစ် နှင့် ၆လ အတွင်း ယူဆောင်လာမည် ဖြစ်ကြောင်းတင်ပြထားပါသည်။

(၃) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ဖွံ့ဖြိုးတိုးတက်မှုဇုန်(၃) တွင် ပါဝင်သဖြင့် ဝင်ငွေခွန်ကင်း လွတ်ခွင့် ၃ နှစ် ခံစားခွင့် လျှောက် ထားနိုင်ပါသည်။

(ဃ) လယ်ယာထွက်ကုန်သီးနှံများ အခြောက်ခံခြင်းလုပ်ငန်း နှင့် စပ်လျဉ်း၍ မန္တလေး တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်း(၁)ခု အား အတည်ပြုမိန့် ထုတ်ပေးထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ Myanmar Satt Satt Paing Co.,Ltd. မှ လယ်ယာ ထွက်ကုန်သီးနှံများ အခြောက် ပေါင်းခံ ကြိတ်ခွဲထုတ်လုပ်ခြင်း လုပ်ငန်းအား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် တင်ပြလာခြင်း နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(နွယ်နီဦး၊အတွင်းရေးမှူး)